မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၄ /၂၀၀၄ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၆ ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၁၃ ရက်
(၂၀၀၄ ခုနှစ်၊ ဩဂုတ်လ ၂၇ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်(Htoo Htoo Toe International Co., Ltd.) မှ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော တနင်္သာရီတိုင်း၊ မြိတ်မြို့နယ်၊ မြိတ်စက်မှုဇုန်နှင့် တစ်ဆက်တစ်စပ်တည်းရှိ မြေနေရာကို ငှါးရမ်း၍ BOT စနစ်ဖြင့် ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့် မြိတ်ခရိုင်အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးဝင်းမိုလ် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော တနင်္သာရီတိုင်း၊ မြိတ်မြို့နယ်၊ မြိတ်စက်မှုဇုန်၊ မြေကွက်အမှတ် (၁၄၂၇၊ ၁၄၃၀၊ ၁၄၃၁)ရှိ မြေ (၁.၈၈၄)ဧက (၇၆၂၄.၂၈ စတုရန်းမီတာ) တွင် တစ်နေ့တန် (၁၀၀)ကျ ရေခဲစက်ရုံနှင့် တစ်နေ့တန် (၂၀)ကျ ငါးအမှုန့်ကြိတ်စက်ရုံ လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၅-၃-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၄) အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၆-၅-၂၀၀၄) နေ့တွင် ကျင်းပပြုလုပ်သော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၃/၂၀၀၄) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၉-၇-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၉/၂၀၀၄) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)အား BOT စနစ်ဖြင့် ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့် တစ်နေ့ တန် (၁၀၀)ကျ ရေခဲစက်ရုံနှင့် တစ်နေ့တန် (၂၀)ကျ ငါးအမှုန့်ကြိတ် စက်ရုံလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၅၀/၂၀၀၄ ကို ထုတ်ပေးလိုက်သည်။

၂။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှုလုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုပြီး ဥပဒေ ပုဒ်မ ၁၃(ဓ)နှင့် (ဈ)ကို ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃မှ အောက်ဖော်ပြပါ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ခံစားလိုပါက ကော်မရှင်သို့ လျှောက်ထားရမည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ စီးပွားရေး လုပ်ငန်းတစ်ခုခုက ထုတ်လုပ်သည့်ပစ္စည်းကို နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှဖြစ်စေ၊ ဝန်ဆောင်မှု လုပ်ငန်းတစ်ခုခုမှဖြစ်စေ သတ်မှတ်သည့် နိုင်ငံခြားငွေ ရရှိလျှင် ထိုသို့ရရှိသည့် အမြတ်ငွေအပေါ်တွင် ကာလအကန့်အသတ်ဖြင့် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့်၊

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းသော စီးပွားရေးလုပ်ငန်းဖြစ်ပြီး ကုန်ထုတ်လုပ်မှုကြောင့်ဖြစ်စေ၊ ဝန်ဆောင်မှုလုပ်ငန်းကြောင့်ဖြစ်စေသတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်၊

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ စီးပွားရေးလုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် သီးသန့်ရန်ပုံငွေထား၍ (၁)နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဃ) ဥပဒေပုဒ်မ၁၃(ဆ)အရဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ၏ ပစ္စည်းတန်ဖိုးလျော့ငွေကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည့်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်၊

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဓ)နှင့် (ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)သည် ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်နှင့် ချုပ်ဆိုသည့် မြေငှါးရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြေအငှါးချထားသူ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် အငှါးချထားခြင်း ခံရသူ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.) တို့ ချုပ်ဆိုမည့် မြေငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်း သဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၉။ မြေငှါးရမ်းကာလမှာ မြေငှါးစာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ကနဦး(၁၅)နှစ်ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၁)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်အတွက် ကော်မရှင်၏ အတည်ပြုချက်ရယူရမည်။

၁၀။ လစဉ် မြေငှါးရမ်းခမှာ ကျပ်(၁.၄၂)သန်း ဖြစ်ပြီး ငှါးရမ်းခကိုပြန်လည်ညှိနှိုင်း သတ်မှတ်ရာတွင် (၅)နှစ် လျှင် တစ်ကြိမ် ယခင်ငှါးရမ်းခ၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေဘဲ ဤကော်မရှင်၏ အတည်ပြုချက်ဖြင့် ညှိနှိုင်း သတ်မှတ်ရမည်။

၁၁။ လုပ်ငန်းဆောင်ရွက်မှုအတွက် ဘဏ်အာမခံကြေး (Performance Bank Guarantee)ငွေကျပ်(၅.၀၀)သန်းကို ကွန်ကရစ်ဆိပ်ခံတံတား စတင်မတည်ဆောက်မီ (၁)ရက် ကြိုတင်၍ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် သို့ ပေးသွင်းရမည်။

၁၂။ မြေငှါးရမ်းကာလ သက်တမ်း(၁၅)နှစ် ပြည့်မြောက်သည့်နောက် ကွန်ကရစ်ဆိပ်ခံတားကို ကောင်းမွန်သော အနေအထားအတိုင်း ပို့ဆောင်ရေးဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန္တရာယ်များ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၁၅။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကိုရယူရမည်။

၁၈။ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း၊ စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူ ခြင်းခံရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်း နည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာကစစ်ဆေးတွေ့ရှိလျှင် စက်ရုံပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင်မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်း ခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၆(က)/မ–၉၁၈/၂၀၀၄ (၃၆၂၀–ဿ)
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ ဩဂုတ်လ ၁ ၃ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး၊ တနင်္သာရီတိုင်း၊ ထားဝယ်မြို့။
၅။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေး ဌာန)။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ ပို့ဆောင်ရေး ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ ထူးထူးတိုး အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီ လီမိတက် (Htoo Htoo Toe International Co., Ltd.)။